ပုံစံ(မနသ-၂)

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ်၊ မနသ-......၇၆၇၂/၂၀၁၈။ ၂၀၁၈ ~~ပြည့်နှစ်~~ ၁၃၇၉ ခုနှစ်၊ နိုဝင်ဘာ လ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ......ဒေါ်နုနုမော်......

(ခ) အဘအမည် ......ဦးမြင့်သိန်း......

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ......၁၂/ဥကတ (နိုင်) ၁၆၅၅၈၆၈......

(ဃ) နေရပ်လိပ်စာ ......အမှတ် (၂၄)၊ ချယ်ရီလမ်း၊ ၁၄/၁ ရပ်ကွက်၊ တောင်ဥက္ကလာပမြို့နယ်၊ ရန်ကုန်မြို့။......

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ......ဖက်ရှင်လေးရာသီကုမ္ပဏီလီမိတက် (Fashion Four Seasons Co., Ltd.)......

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ......CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်း......

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) ......မြေကွက်အမှတ် (၃၂၁)၊ မြေတိုင်းရပ်ကွက်အမှတ် (၁၉/၁)၊ ကျောင်း(၇)လမ်း၊ ရွှေလီကက်ဆက်စက်မှုဇုန်၊ မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။......

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ......၁၆၄.၄၄ (သန်း)......
(ကျပ်တစ်ရာခြောက်ဆယ့်လေးသန်း၊ လေးသိန်း၊ လေးသောင်း)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**

အမိန့်ကြော်ငြာစာအမှတ်၊ /၂၀၁၀(မနသ)

ရန်ကုန်မြို့ ၊ ၁၃၇၂ ခုနှစ် ၊ တန်ဆောင်မုန်းလပြည့်ကျော် ရက်

(၂၀၁၀ခုနှစ်၊ နိုဝင်ဘာ လ ရက်)

၁။ မြန်မာကုမ္ပဏီဖြစ်သော ဖက်ရှင်လေးရာသီ ကုမ္ပဏီ လီမိတက် (Fashion Four Seasons Co., Ltd.) သည် ဦးမိုးကျော်သူနှင့် ဦးမိုးအောင်သူ အမည်ဖြင့် မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနမှ အသုံးပြုခွင့်ရရှိထားသော မြေကွက်အမှတ်(၃၂၁)၊ မြေတိုင်း ရပ်ကွက် အမှတ် (၁၉/၁)၊ ကနောင်(၇)လမ်း ၊ရွှေပေါက်ကံ စက်မှုဇုန် ၊ မြောက်ဥက္ကလာပ မြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီး ရှိမြေ (၀.၅၇၃) ဧက (၂၄၉၇၅ စတုရန်းပေ) နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦ များအား ငှားရမ်း၍ CMP စနစ်ဖြင့် အထည် ချုပ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား (၈-၁၀-၂၀၁၀)နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှု ကော်မရှင် ၏ (၃၄/၂၀၁၀) အစည်းအဝေး သို့ တင်ပြခဲ့ပါသည်။ ကော်မရှင်မှ စိစစ်ခဲ့ပြီး (၂၀-၁၀-၂၀၁၀) နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒ ကောင်စီ ၏ (၃၃/၂၀၁၀) အစည်းအဝေး သို့ ဆက်လက်တင်ပြခဲ့ပါသည်။ အဆိုပါအစည်းအဝေးမှ သဘောတူညီချက် အရ (၁၈-၁၁-၂၀၁၀) နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ ( /၂၀၁၀) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက် အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင် ခွင့်များကို ကျင့်သုံးလျှက် ဖက်ရှင်လေးရာသီ ကုမ္ပဏီ လီမိတက် (Fashion Four Seasons Co., Ltd.) အား CMP စနစ် ဖြင့် အထည် ချုပ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက် နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ- / ၂၀၁၀ ကို ထုတ်ပေးလိုက်သည်။

၂။ ဖက်ရှင်လေးရာသီ ကုမ္ပဏီ လီမိတက် (Fashion Four Seasons Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါ အဝင် တစ်ဆက်တည်း(၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ပြုသည်။ ဥပဒေပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များ နှင့်အညီ အောက်ဖော်ပြပါ အခွန် ကင်းလွတ်ခွင့် နှင့် သက်သာခွင့် များကို ခံစားခွင့်ပြုနိုင် ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ၁၃(ခ)အရလုပ်ငန်းက နိုင်ငံခြားသို့တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့်ရရှိသည့် အမြတ်ငွေ ပေါ်တွင် (၅၀%) အထိ ကာလ အကန့်အသတ်ဖြင့် ဝင်ငွေခွန်သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၃)နှစ်ခံစားပြီး

နောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ဂ) အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့် အခါ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့်ရံပုံငွေ ထား၍ တစ်နှစ် အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများအပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ ဖက်ရှင်လေးရာသီ ကုမ္ပဏီ လီမိတက် (Fashion Four Seasons Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလ အဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှုနှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များ ကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ် ထားရှိ ဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၄။ ဖက်ရှင်လေးရာသီ ကုမ္ပဏီ လီမိတက် (Fashion Four Seasons Co., Ltd.) သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၅။ အဆိုပြု လုပ်ငန်းကို ဆောင်ရွက်နိုင်ရန် အတွက် မြေ နှင့် အဆောက်အဦ အငှားချထားသူ ဦးမိုးကျော်သူနှင့် ဦးမိုးအောင်သူတို့နှင့် နှင့် အငှားချထားခြင်း ခံရသူ ဒေါ်စုစုမော် [ဖက်ရှင်လေးရာသီ ကုမ္ပဏီ လီမိတက် (Fashion Four Seasons Co., Ltd.)]တို့ ချုပ်ဆိုမည့် မြေနှင့် အဆောက်အဦ ငှားရမ်းခြင်း သဘောတူ စာချုပ်ကို လက်မှတ်ရေးထိုး ပြီးသည့်အခါ ယင်းသဘောတူ စာချုပ်မိတ္တူ (၅)စောင် ကို ဤကော်မရှင် သို့ မပျက်မကွက် ပေးပို့တင်ပြရမည်။

၆။ အဆိုပြု လုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှု နှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းသည့် စည်းကမ်းချက်များ ကို တိကျစွာ လိုက်နာ ဆောင်ရွက် ရမည်။

၇။ ဖက်ရှင်လေးရာသီ ကုမ္ပဏီ လီမိတက် (Fashion Four Seasons Co., Ltd.) မှ နိုင်ငံခြားသား ကျွမ်းကျင် သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေ ဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက်များနှင့် အညီ ဤကော်မရှင်သို့ သီးခြား တင်ပြ လျှောက်ထားရမည်။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမားဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေး အတွက် အဆိုပြုချက်တွင် တင်ပြထားသည့် အတိုင်း စီစဉ် ဆောင်ရွက်ရ မည်။

၈။ ဖက်ရှင်လေးရာသီ ကုမ္ပဏီ လီမိတက် (Fashion Four Seasons Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန် အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိ ပြုထားသည့်အတိုင်း စံနစ်တကျ ထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤ ကော်မရှင်သို့ မပျက်မကွက် အစီရင် ခံရမည်။

၉။ ဖက်ရှင်လေးရာသီ ကုမ္ပဏီ လီမိတက် (Fashion Four Seasons Co., Ltd.) သည် အဆိုပြုချက်တွင် ဝန်ခံကတိပြုထားသည့် အတိုင်း ပုဂ္ဂလိက စက်မှု လုပ်ငန်း ဥပဒေအရ ပြည်နယ်/ တိုင်း စက်မှု ကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင် ထားရှိ ဆောင်ရွက် ရမည်။

၁၀။ ဖက်ရှင်လေးရာသီ ကုမ္ပဏီ လီမိတက် (Fashion Four Seasons Co., Ltd.) သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး(သုံး)လ အတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင် ခံရမည်။ ထို့အပြင် လုပ်ငန်း အကောင်အထည် ဖော်မှု အခြေအနေများ ကို သတ်မှတ်ထားသော ပုံစံ ဇယားများဖြင့် (၆)လတစ်ကြိမ် (ဧပြီ/အောက်တိုဘာ လများ) မပျက်မကွက် ပုံမှန် ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ်စတင် ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံ ရမည်။

၁၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီး မြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသ လိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏

ရုံးခန်းလိပ်စာ နှင့် တယ်လီဖုန်း နံပါတ်) တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ မပျက်မကွက် တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၂။ ဖက်ရှင်လေးရာသီ ကုမ္ပဏီ လီမိတက် (Fashion Four Seasons Co., Ltd.) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာန များမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာမှု မရှိကြောင်း စစ်ဆေး တွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည် ရုပ်သိမ်းသည်အထိ အရေးယူခြင်း ခံရမည်။

၁၃။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက် ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့ အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေး တွေ့ရှိလျှင် ပုဂ္ဂလိက စက်မှုလုပ်ငန်းမှတ်ပုံတင်ကို ပယ်ဖျက်ပြီး စက်ရုံ ပိတ်သိမ်းနိုင်ရေး အတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက် မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၅(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၁၄။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(မောင်မောင်သိမ်း)
ဥက္ကဋ္ဌ

စာအမှတ်၊ရကက-၆(က) /မ- /၂၀၁၀( )
ရက်စွဲ၊ ၂၀၁၀ခုနှစ်၊ နိုဝင်ဘာ လ ရက်။

ဖြန့်ဝေခြင်း-

၁။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ဥက္ကဋ္ဌရုံး။

၂။ နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ ရုံး။

၃။ အစိုးရ အဖွဲ့ရုံး။

၄။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ။

၅။ အမှတ်(၁) စက်မှု ဝန်ကြီးဌာန။

၆။ လူဝင်မှု ကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။

၇။ အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။

၈။ အမှတ်(၂) လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန။

၉။ ဆောက်လုပ်ရေး ဝန်ကြီးဌာန။

၁၀။ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။

၁၁။ ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန။

၁၂။ ဘဏ္ဍာရေးနှင့် အခွန် ဝန်ကြီးဌာန။

၁၃။ အလုပ်သမား ဝန်ကြီးဌာန။

၁၄။ ပြည်ထဲရေးဝန်ကြီးဌာန။

၁၅။ ဥက္ကဋ္ဌ ၊CMP လုပ်ငန်းများ ကြီးကြပ်ရေး ကော်မတီ။(အမှတ်(၁)စက်မှုဝန်ကြီးဌာန)

၁၆။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမှတည့် ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့။(ပို့ဆောင်ရေး ဝန်ကြီးဌာန)

၁၇။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။

၁၈။ ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန။

၁၉။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အထည်အလိပ် လုပ်ငန်း။

၂၀။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန။

၂၁။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။

၂၂။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။

၂၃။ ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန။

၂၄။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။

၂၅။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း။

၂၆။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။

၂၇။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန။

၂၈။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။

၂၉။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန။

၃၀။ ဥက္ကဋ္ဌ၊ပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်။

၃၁။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံ အထည်ချုပ် လုပ်ငန်းရှင်များ အသင်း၊ ရန်ကုန်။

၃၂။ အုပ်ချုပ်မှုဒါရိုက်တာ၊ ဖက်ရှင်လေးရာသီ ကုမ္ပဏီ လီမိတက် (Fashion Four Seasons Co., Ltd.)



ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

အကြောင်းအရာ။ ။ ဖက်ရှင်လေးရာသီ ကုမ္ပဏီ လီမိတက် (Fashion Four Seasons Co., Ltd.) မှ CMP စနစ် ဖြင့် အထည် ချုပ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ။

အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ ပြည်ထောင်စုမြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ ( /၂၀၁၀) ( - -၂၀၁၀) အစည်းအဝေး ဆုံးဖြတ်ချက်အရ သက်ဆိုင်ရာ ရင်းနှီးမြှုပ်နှံသူသို့ ထုတ်ပေးမည့် ခွင့်ပြုမိန့် နှင့် အမိန့်စာ (စာကြမ်း)တို့အား ပြုစုတင်ပြအပ်ပါသည်။

၆၆

လျှို့ဝှက်

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၆(ခ) / မ- ၁၅၀၅/၂၀၁၀(၁၆၆၂၄ )၊
ရက်စွဲ ၊ ၂၀၁၀ ခုနှစ် ၊ အောက်တိုဘာ လ ၁၅ ရက်။

ကုန်သွယ်မှု မူဝါဒကောင်စီသို့ တင်ပြသည့်

အမှာစာ

အကြောင်းအရာ။ ။ ဖက်ရှင်လေးရာသီကုမ္ပဏီလီမိတက် (Fashion Four Seasons Co., Ltd.) မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော ဖက်ရှင်လေးရာသီကုမ္ပဏီလီမိတက် (Fashion Four Seasons Co., Ltd.) သည် ဦးမိုးကျော်သူ နှင့် ဦးမိုးအောင်သူ အမည်ဖြင့် မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနမှ အသုံးပြုခွင့် ရရှိထားသော မြေကွက် အမှတ်(၃၂၁)၊ မြေတိုင်းရပ်ကွက်အမှတ်(၁၉/၁)၊ ကနောင်(၇) လမ်း၊ ရွှေပေါက်ကံ စက်မှုဇုန်၊ မြောက်ဥက္ကလာပ မြို့နယ်၊ ရန်ကုန်တိုင်းရှိ မြေ(၀.၅၇၃) ဧက (၂၄၉၇၅ စတုရန်းပေ) နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦများကို ငှားရမ်း၍ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့် ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်စုစုမော် (အဘ- ဦးမြင့်သိန်း) မှ အဆိုပြု တင်ပြလာပါသည်။

၂။ အဆိုပြု လုပ်ငန်း ဆောင်ရွက်ခွင့်နှင့် စပ်လျဉ်း၍ (၈-၁၀-၂၀၁၀) နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှု ကော်မရှင်၏ (၃၄/၂၀၁၀) အစည်းအဝေးမှ " ကုန်သွယ်မှု မူဝါဒ ကောင်စီ သို့ တင်ပြ လမ်းညွှန်မှု ခံယူရန်" ဆုံးဖြတ်ခဲ့ပါသည်။

၃။ ယင်းလုပ်ငန်း နှင့် စပ်လျဉ်း၍ သက်ဆိုင်ရာ ဌာန/ အဖွဲ့အစည်းများမှ အောက်ပါအတိုင်း သဘောထား ပြန်ကြားထားပါသည်။

(က) အမှတ်(၁)စက်မှုဝန်ကြီးဌာန အနေဖြင့် ကုန်ကြမ်း လိုအပ်ချက် နှင့် ကုန်ချော ထုတ်လုပ်မှု အချိုးအစား ညီညွတ်မှု ရှိပါကြောင်း ၊ CMP လက်ခနှုန်းများတင်ပြထားမှုသည် ဆီလျော်မှု ရှိပါကြောင်း ၊ နှစ်စဉ်ထုတ်လုပ်မှုနှင့် စက် အင်အား၊ လူအင်အား အချိုးအစားညီမျှမှု ရှိပါကြောင်း နှင့် လုပ်ငန်း ဆောင်ရွက် ခွင့် တင်ပြလာခြင်းအပေါ် ကန့်ကွက်ရန် မရှိ ပါကြောင်း၊ နောက်ဆက်တွဲ(က)

(ခ) ဆောက်လုပ်ရေး ဝန်ကြီးဌာန အနေဖြင့် အဆိုပြုမြေကွက်အားစိစစ်ရာ ခြံစည်းရိုးကာရံ ထားပြီး မြေပေါ်တွင် (၂၀' x ၄၈')နှစ်ထပ် ရုံးခန်းနှင့်တွဲလျက် (၁၁၄' x ၄၈') စက်ရုံ အဆောက်အဦ (၁)လုံး၊ (၁၆' x ၉၆') တစ်ထပ်အဆောက်အဦ(၁)လုံး

ဆောက်လုပ် ထားပြီး လုပ်ငန်း ဆောင်ရွက်နေခြင်း မရှိသေးပါကြောင်း၊ ယင်း မြေကွက်နှင့် အဆောက်အဦကို မြေဂရန် အမည်ပေါက် ဦးမိုးကျော်သူ နှင့် ဦးမိုးအောင်သူ တို့ ထံမှ ကုမ္ပဏီမှ ငှားရမ်း အသုံးပြုမည် ဖြစ်ပြီး၊ ယင်းငှားရမ်းမှုကို ကန့်ကွက်ရန် မရှိ ပါကြောင်းနှင့် ယင်း မြေနေရာတွင် လုပ်ငန်း ဆောင်ရွက်ရန် သင့်လျော် သည်ဟု ယူဆပါကြောင်း၊ နောက်ဆက်တွဲ(ခ)

(ဂ) နိုင်ငံခြားရေးဝန်ကြီးဌာန အနေဖြင့် အဆိုပြုကုမ္ပဏီနှင့် CMP စနစ်ဖြင့်လုပ်ငန်း ဆောင်ရွက် မည့် ကိုရီးယား သမ္မတ နိုင်ငံ ရှိ Bikers Inc နှင့် စပ်လျဉ်း၍ မေးမြန်းရာ စီးပွားရေး လုပ်ငန်း မှတ်ပုံတင်မှု အထောက်အထား၊ ကုမ္ပဏီနှင့် ပတ်သက်သော ရှင်းလင်း တင်ပြချက်၊ အနာဂတ် ဆောင်ရွက်မည့် လုပ်ငန်းများကို ရှင်းလင်း တင်ပြထားပါကြောင်း၊ နောက်ဆက်တွဲ(ဂ)

(ဃ) ပြည်ထောင်စုမြန်မာနိုင်ငံ ကုန်သည်များနှင့် စက်မှုလက်မှု လုပ်ငန်းရှင်များ အသင်း ချုပ် အနေဖြင့် အဆိုပြုကုမ္ပဏီသည် မြေကွက် အမှတ်(၃၂၁)၊ မြေတိုင်းရပ်ကွက် အမှတ် (၁၉/၁)၊ ကနောင်(၇) လမ်း၊ ရွှေပေါက်ကံ စက်မှုဇုန်တွင် လုပ်ငန်း ဆောင်ရွက် လျှက် ရှိကြောင်း၊ ရွှေပေါက်ကံ စက်မှုဇုန်စီမံခန့်ခွဲရေး ကော်မတီ၏ (၁၉-၆-၂၀၁၀) ရက်စွဲ ပါ ထောက်ခံစာနှင့် MOA ရေးထိုးထားသော ကိုရီးယားနိုင်ငံမှ Bikers Inc ၏ Company Profile ကို တင်ပြနိုင်သည့် အတွက် လုပ်ငန်း ဆောင်ရွက်ခွင့် လျှောက်ထား လာခြင်း အပေါ် ထောက်ခံပါကြောင်း ၊ နောက်ဆက်တွဲ (ဃ)

၄။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် လျှပ်စစ်ဓါတ်အား မရရှိသော အချိန်တွင် ကိုယ်ပိုင်မီးစက် ဖြင့် ထားရှိဆောင်ရွက်မည်ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၅။ လုပ်ငန်းအဆိုပြုချက်အား နောက်ဆက်တွဲ(င) ဖြင့် တင်ပြအပ်ပါသည်။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ စုစုပေါင်း ကျပ်(၁၆၄.၄၄)သန်း ဖြစ်ပါသည်။ လုပ်ငန်းအတွက် လိုအပ် သော စက်ပစ္စည်းများ ကျပ်(၁၂၈.၆၅)သန်းဘိုး အနက် ကျပ်(၁၁၄.၇၅)သန်း ဘိုးကို ပြည်တွင်းမှ ဝယ်ယူပြီး ဖြစ်ကြောင်း တင်ပြထားပါသည်။

| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | ကျပ် ၁၆၄.၄၄ သန်း |
|---|---|
| (က) ငွေပမာဏ | ၅.၀၀ |
| (ခ) အဆောက်အဦပြင်ဆင်မှု | ၁၀.၀၀ |
| (ဂ) စက်ပစ္စည်းကိရိယာများ | ၁၂၈.၆၅ |
| (ဃ) ပရိဘောဂနှင့် လုပ်ငန်းသုံး ပစ္စည်းများ | ၂၀.၇၉ |



Fashion 4 -TC

၆။ အဆိုပြုလုပ်ငန်းမှ ချုပ်လုပ်ပြီးအထည်များကို CMP စနစ်အရ ပြည်ပသို့ (၉၉) ရာခိုင်နှုန်း တင်ပို့၍ Reject (၁)ရာခိုင်နှုန်းကို ပြည်တွင်းတွင် ရောင်းချမည်ဖြစ်ပါသည်။ ပုံမှန်နှစ်တွင် ထုတ်လုပ် နိုင်မှု၊ CMP လက်ခနှုန်း နှင့် ပြည်တွင်းရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| စဉ် | အမျိုးအမည် | ထုတ်လုပ်မှု (ဒါဇင်) | CMP လက်ခတစ်ဒါဇင် နှုန်း (US$) | တစ်ဒါဇင် ပြည်တွင်း ရောင်းဈေးနှုန်း (ကျပ်) |
|---|---|---|---|---|
| ၁။ | Jacket | ၁၃,၁၀၀ | ၁၃.၂၀ | ၃၅၀၀၀ |
| ၂။ | Pant | ၂၁,၈၃၀ | ၆.၂၀ | ၂၄၀၀၀ |
| ၃။ | Shirt | ၂၁,၈၃၀ | ၅.၈၀ | ၂၄၀၀၀ |
| ၄။ | Blouse | ၃၀,၅၆၀ | ၄.၂၀ | ၁၂၅၀၀ |

၇။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင် ဝင်ငွေကျပ်(၁၈.၉၉)သန်းနှင့် နိုင်ငံခြားငွေဖြင့် အမေရိကန်ဒေါ်လာ(၀.၅၆)သန်း ရရှိမည် ဖြစ်ပါသည်။ နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ CMP လက်ခရငွေအပေါ် (၁၀%) အခွန် ဖြတ်တောက်ရရှိငွေ အမေရိကန်ဒေါ်လာ (၅၅၇၆၀) နှင့် ကုန်သွယ်လုပ်ငန်းခွန် ကျပ်(၁. ၉၀)သန်း ရရှိမည် ဖြစ်ပါသည်။

၈။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းမှလုပ်သား (၃၄၁)ဦး ခန့်ထားမည် ဖြစ်ပြီး နိုင်ငံခြားသားပညာရှင်(၃)ဦးအား အချိန်ပိုင်း ခန့်ထားမည် ဖြစ်ပါသည်။ လုပ်ငန်းခွင် သာယာရေး အတွက် ထမင်းစားဆောင် (၁)ဆောင် ၊ အိပ်ဆောင် (၁)ဆောင် နှင့် ရေအိမ် (၂၀)လုံး စီစဥ်ပေးမည် ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၉။ ငွေကြေး အထောက်အထားအဖြစ် ကုမ္ပဏီ၏ ဒါရိုက်တာ ဖြစ်သူ ဒေါ်စုစုမော် အမည်ဖြင့် မြဝတီဘဏ်လီမိတက်ရှိ (၁၇-၅-၂၀၁၀) နေ့ရှိ ငွေလက်ကျန် ကျပ်(၂၀.၀၀) သန်း စာရင်း တင်ပြထား ပါသည်။

၁၀။ ယင်း လုပ်ငန်းသည် မြန်မာနိုင်ငံသားများ သာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှုမရှိကြောင်း၊ လုပ်ငန်းအသစ်ဖြစ်ကြောင်း၊ မီးဘေးအန္တရာယ်အတွက် လိုအပ်သောအစီအမံများ၊ ကြိုတင်ကာကွယ်မှုများ ပြုလုပ်ထားမည်ဖြစ်ကြောင်း၊ ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/တိုင်း စက်မှုကြီးကြပ်ရေး နှင့် စစ်ဆေးရေး ဦးစီးဌာန တွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ထားရှိမည်ဖြစ်ကြောင်း၊ မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ်ပြဌာန်းထားသည့် စည်းကမ်းချက်များကို လိုက်နာ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊ နိုင်ငံခြားငွေဖြင့် ရရှိသော

အခ ကြေးငွေများကို မြန်မာ့နိုင်ငံခြားကုန်သွယ်မှုဘဏ်နှင့် မြန်မာ့ရင်းနှီးမြှုပ်နှံမှု နှင့် ကူးသန်းရောင်းဝယ်ရေးဘဏ်ရှိ ကုမ္ပဏီ၏ငွေစာရင်းသို့ မပျက်မကွက် ပေးသွင်းမည်ဖြစ်ကြောင်း၊ ကုန်ကြမ်းနှင့် ကုန်ချောများကို ရေကြောင်းခရီး/လေကြောင်းခရီးတို့ဖြင့် တင်ပို့မည်ဖြစ်ကြောင်း ကတိ ဝန်ခံချက်များ ပေးထား ပါသည်။

၁၁။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ကိုလည်းကောင်း၊ ပုဒ်မ ၁၃ အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကိုလည်းကောင်း ခံစားခွင့်ပြုရပါမည်။

ဆုံးဖြတ်ရန်အချက်

၁၂။ ဖက်ရှင်လေးရာသီ ကုမ္ပဏီလီမိတက် (Fashion Four Seasons Co., Ltd.) မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန် သဘောတူ-မတူ။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ထောက်ခံချက်

၁၃။ ကုန်သွယ်မှု မူဝါဒကောင်စီ၏ ဆုံးဖြတ်ချက်ကို နာခံပါမည်။

( မောင်မောင်သိမ်း )

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊
ဝန်ကြီး၊မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန။

ကုန်သွယ်မှု မူဝါဒကောင်စီ

## ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစု ရှင်များ၏အမည် | ဒါရိုက်တာ/အစုရှင်များ၏ နေရပ်လိပ်စာ |
|---|---|---|---|
| ၁။ | ဖက်ရှင်လေးရာသီ ကုမ္ပဏီ လီမိတက် (Fashion Four Seasons Co., Ltd.) | ၁။ ဒေါ်စုစုမော် (အုပ်ချုပ်မှုဒါရိုက်တာ) | အမှတ်(၂၄)၊ ချယ်ရီလမ်း၊ (၁၄/၁) ရပ်ကွက်၊ တောင်ဥက္ကလာပမြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၂။ ဦးမျိုးဝင်း (ဒါရိုက်တာ) | အမှတ်(၁၁၇၈)၊ ရွှေဝါလမ်း၊ (၄၆) ရပ်ကွက်၊ ဒဂုံမြို့သစ် မြောက်ပိုင်း၊ ရန်ကုန်မြို့။ |

၁။ ကုမ္ပဏီ၏ တယ်လီဖုန်းအမှတ်/ - ၀၁ - ၆၉၆၀၈၁

၂။ကုမ္ပဏီ၏ လိပ်စာအပြည့်အစုံ - မြေကွက်အမှတ်( ၃၂၁ )၊ မြေတိုင်းရပ်ကွက်အမှတ်(၁၉/၁)၊ ကနောင်(၇)လမ်း၊ ရွှေပေါက်ကံ စက်မှုဇုန်၊ မြောက်ဥက္ကလာပ မြို့နယ် ရန်ကုန်မြို့။

၃။ ကုမ္ပဏီ၏ ဆက်သွယ်ရမည့်ပုဂ္ဂိုလ် အမည်/ရာထူး - ဒေါ်စုစုမော် (အုပ်ချုပ်မှု ဒါရိုက်တာ)

၄။ ကုမ္ပဏီအနေဖြင့် ဆောင်ရွက်သည့် လုပ်ငန်းများ - စက်မှု/ထုတ်လုပ်မှုလုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်နှင့်ရက်စွဲ - ၃၅၅/၂၀၁၀-၂၀၁၁ (၈-၆-၂၀၁၀)

၆။ ကုမ္ပဏီမှတ်ပုံတင်သက်တမ်း ကုန်ဆုံးသည့်နေ့စွဲ - ၁၄-၁၂-၂၀၁၀

၇။ ဘဏ်အမည်နှင့်ငွေစာရင်းအမှတ် - မြဝတီဘဏ်လီမိတက် S 100 50011009251 Q

လျှို့ဝှက်

၆

နောက်ဆက်တွဲ(က)



# ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
# အမှတ် (၁) စက်မှုဝန်ကြီးဌာန
## ဝန်ကြီးရုံး

စာအမှတ်၊ ၂၉ /၁စ(၁)/၂၀၁၀ (၅၆၇၈)
ရက်စွဲ၊ ၂၀၁၀ ပြည့်နှစ် ဇူလိုင်လ ၂၁ ရက်

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၀ ပြည့်နှစ် ဇွန်လ ၁၀ ရက် နေ့စွဲပါစာအမှတ်၊ ရက-၆(က)/မ-၁၀၈၁/၂၀၁၀(၈၂၂၅)

၁။ ဖက်ရှင်လေးရာသီကုမ္ပဏီလီမိတက် (Fashion Four Seasons Co., Ltd) မှ ရန်ကုန်တိုင်း၊ မြောက်ဥက္ကလာပမြို့နယ်၊ ရွှေပေါက်ကံစက်မှုဇုန်၊ ကနောင်(၇)လမ်း၊ မြေကွက်အမှတ် (၃၂၁) တွင် CMP စနစ်ဖြင့်အထည်ချုပ်လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် တင်ပြလျှောက်ထားလာခြင်း အပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် အထက်ရည်ညွှန်းစာဖြင့် မေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာခြင်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) CMP ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှုအချိုးအစားညီညွတ်မှု ရှိပါသည်။
(ခ) CMP လက်ခနှုန်းများတင်ပြထားမှုသည် ဆီလျော်မှုရှိပါသည်။
(ဂ) နှစ်စဉ်ထုတ်လုပ်မှုနှင့် စက်အင်အား/လူအင်အား အချိုးအစားညီမျှမှု ရှိပါသည်။

၃။ သို့ဖြစ်ပါ၍ ဖက်ရှင်လေးရာသီကုမ္ပဏီလီမိတက် (Fashion Four Seasons Co., Ltd) မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် အဆိုပြုတင်ပြလာခြင်းအပေါ် ဤဝန်ကြီးဌာနမှ ကန့်ကွက်ရန်မရှိ(မရှိ)ပါကြောင်း ပြန်ကြားအပ်ပါသည်။

၂၁/၇/၂၀၁၀

ဝန်ကြီး ( )
မြင့်ဆွေ၊ ရုံးအဖွဲ့မှူး

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
မိတ္တူကို-

အတွင်းရေးမှူး
CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ

ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့အထည်အလိပ်လုပ်ငန်း

D:\July (6)10\P 219

လျှို့ဝှက်



၇

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
ဆောက်လုပ်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး
နေပြည်တော်

စာအမှတ်၊ ၂၆ / ခွဲ - ၃ /၂၀၁၀ (စီ ၄၉၆၈)
ရက် စွဲ၊ ၂၀၁၀ ခုနှစ် ဇူလိုင်လ ၅ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၀ ခုနှစ် ဇွန်လ (၁၀)ရက် နေ့စွဲပါ စာအမှတ်၊ ရက - ၆(က)/မ-၁၀၈၁/၂၀၁၀ (၈၂၂၆)

၁။ ဖက်ရှင်လေးရာသီ ကုမ္ပဏီလီမိတက် ( Fashion Four Seasons Co., Ltd ) မှ ခမြောက်ဥက္ကလာပမြို့နယ်၊ ရွှေပေါက်ကံစက်မှုဇုန်၊ မြေတိုင်းရပ်ကွက် - ၁၉/၁၊ မြေကွက်အမှတ်၊ ၃၂၂ (၀.၅၇၃ ဧက)နှင့် မြေပေါ်ရှိ အဆောက်အဦများကို ငှားရမ်း၍ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းအဆိုပြုချက် တင်ပြခြင်းနှင့် စပ်လျဉ်း၍အဆိုပြု မြေကွက်ကို စီစစ်ရာ ၀.၅၇၃ ဧက ( ၂၂၅ ' /၁၀၈ ' x ၁၈၅ ' /၁၅၀ ' ) အကျယ် မြေကွက်အား ခြံစည်းရိုး ကာရံထားပြီး မြေပေါ်တွင် ( ၂၀ ' x ၄၈ ' ) နှစ်ထပ်ရုံးခန်းနှင့် တွဲလျက် ( ၁၁၄ ' x ၄၈ ' ) စက်ရုံအဆောက်အဦ (၁)လုံး(၁၆ ' x ၉၆ ' )တစ်ထပ်အဆောက်အဦ(၁)လုံး ဆောက်လုပ်ထားပါသည်။ ဖက်ရှင်လေးရာသီကုမ္ပဏီလီမိတက် မှ လုပ်ငန်းဆောင်ရွက်နေခြင်း မရှိသေးပါ။ (အဆိုပြုမြေကွက်နှင့်ပတ်ဝန်းကျင်အခြေအနေပြ မြေပုံကြမ်း ပူးတွဲတင်ပြအပ်ပါသည်။ )

၂။ အဆိုပါမြေကွက်နှင့် အဆောက်အဦကို မြေဂရန်အမည်ပေါက် ဦးမိုးကျော်သူ + ဦးမိုးအောင်သူ ထံမှ ဖက်ရှင်လေးရာသီကုမ္ပဏီလီမိတက်က ငှားရမ်းအသုံးပြုမည်ဖြစ်ပြီး ၊ ယင်းငှားရမ်းမှုကို မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှ ကန့်ကွက်ရန်မရှိပါ ။

၃။ သို့ပါ၍ ဖက်ရှင်လေးရာသီကုမ္ပဏီလီမိတက်မှ လုပ်ငန်းဆောင်ရွက်မည့် မြေနေရာ၏ ခမြေပေါ်အခြေအနေအား သိရှိနိုင်ပါရန်နှင့် ပတ်ဝန်းကျင်အနေအထားအရ ယင်းမြေနေရာတွင် အထည်ချုပ်လုပ်ငန်း ဆောင်ရွက်ရန် သင့်လျော်သည်ဟု ယူဆပါကြောင်း ပြန်လည် တင်ပြအပ်ပါသည် ။

ဝန်ကြီး(ကိုယ်စား)
မြင့်သိန်း၊ ဒုတိယဝန်ကြီး

မိတ္တူကို

- ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန ။

နောက်ဆက်တွဲ(ဂ)



ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
နိုင်ငံခြားရေးဝန်ကြီးဌာန
နေပြည်တော်

စာအမှတ်၊ ၃၂ ၃၃ ၂၃ ( ၃၁၆၅ )
ရက်စွဲ၊ ၂၀၁၀ ပြည့်နှစ်၊ အောက်တိုဘာလ ၄ ရက်

သို့

အတွင်းရေးမှူး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ ကိုရီးယားသမ္မတနိုင်ငံရှိ Bikers Inc ၏ ခိုင်မာမှုစုံစမ်းခြင်းကိစ္စ

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂-၇-၂၀၁၀ ရက်စွဲပါစာအမှတ်၊ ရက-၆(က)/ မ-၁၀၈၁/၂၀၁၀ (၉၅၅၈)

၁။ ကိုရီးယားသမ္မတနိုင်ငံရှိ Bikers Inc နှင့်ပတ်သက်၍ စုံစမ်းမေးမြန်းခဲ့ရာ စီးပွားရေးလုပ်ငန်းမှတ်ပုံတင်မှု အထောက်အထား၊ ကုမ္ပဏီနှင့်ပတ်သက်သော ရှင်းလင်းတင်ပြချက်၊ အနာဂတ်ဆောင်ရွက်မည့် လုပ်ငန်းများကို တင်ပြနိုင်သော်လည်း ဘဏ်စာရင်းမှာမူ လုပ်ငန်းဆောင်ရွက်ခွင့် ရရှိပြီးချိန်မှသာလျှင် ဘဏ်ကောက်တွင် ဖွင့်လှစ်သွားမည်ဖြစ်သဖြင့် တင်ပြနိုင်သေးခြင်း မရှိကြောင်းကို သိရှိရပါကြောင်း ပေးပို့တင်ပြလာသည့် မြန်မာသံရုံး၊ ဆိုးလ်မြို့၏ ၂၄-၉-၂၀၁၀ ရက်စွဲပါ (ဖက်စ်) စာအမှတ်၊ ၁၀၇ - ၅၀၁ / ၃၃ - ၀၃ ကို ဤစာနှင့်အတူ ပူးတွဲ ပေးပို့အပ်ပါသည်။

၂။ သက်ဆိုင်ရာစာရွက်စာတမ်းများကို လက်ခံရရှိသည့်အခါ ဆက်လက်ပေးပို့မည်ဖြစ်ကြောင်း ဖော်ပြအပ်ပါသည်။

ဒုတိယဝန်ကြီး(ကိုယ်စား)
(သန်းစိန်၊ ဒုတိယညွှန်ကြားရေးမှူး)

နောက်ဆက်တွဲ(ဃ)



ပြည်ထောင်စုမြန်မာနိုင်ငံ

ကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်

အမှတ်-၂၉၊ မင်းရဲကျော်စွာလမ်း၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့။

☎ : ၂၁၄၃၄၄/ ၂၁၄၃၄၅/ ၂၁၄၃၄၆/ ၂၁၄၃၄၇/ ၂၁၄၃၄၈/ ၂၁၄၃၄၉။ ဖက်စ် : ၉၅-၁-၂၁၄၄၈၄။

စာအမှတ်၊ ။ ဂ/၁/၁/(ဝန်ဆောင်)/ဝ၉-၁၁( ၂၁၂၉ )

ရက်စွဲ ။ ။ ၂၀၁၀ ခုနှစ်၊ ဇူလိုင်လ ၂၈ ရက်

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

နေပြည်တော်

**အကြောင်းအရာ။ သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ၊**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏ ၉.၆.၂၀၁၀ ရက်စွဲပါ စာအမှတ် ရက-၆(က)/မ-၁၀၈၁/၂၀၁၀(၈၁၇၁)

၁။ ဖက်ရှင်လေးရာသီ ကုမ္ပဏီလီမိတက် ( Fashion Four Seasons Co.,Ltd ) မှ ရန်ကုန်တိုင်း၊ မြောက်ဥက္ကလာပမြို့နယ်၊ ရွှေပေါက်ကံစက်မှုဇုံ၊ မြေတိုင်းရပ်ကွက်အမှတ် (၁၉/၁)၊ မြေကွက်အမှတ် (၃၂၁)၊ ကနောင် (၇) လမ်းရှိ မြေ (၀.၅၇၃) ဧက နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦများကို ငှားရမ်း၍ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားခြင်းအပေါ် ရည်ညွှန်းစာဖြင့် ဤအသင်းချုပ်သို့ သဘောထားမှတ်ချက်ပေးပါရန် တောင်းခံလာ သည်ကို ရရှိပါသည်။

၂။ ဖက်ရှင်လေးရာသီ ကုမ္ပဏီလီမိတက် သည် မြေတိုင်းရပ်ကွက်အမှတ် (၁၉/၁)၊ ရပ်ကွက်အမှတ် (၃၂၁)၊ ကနောင် (၇) လမ်း၊ ရွှေပေါက်ကံစက်မှုဇုံတွင် အထည်ချုပ်စက်ရုံလုပ်ငန်းကို ၂၀၁၀ ခုနှစ်၊ ဇွန်လ ၁၅ ရက်နေ့ မှ စတင်တည်ထောင်ဆောင်ရွက်လျှက်ရှိကြောင်း၊ ရွှေပေါက်ကံစက်မှုဇုံ၊ စီမံခန့်ခွဲရေးကော်မတီ၏ ၁၉.၆.၂၀၁၀ ရက်စွဲပါ ထောက်ခံစာ နှင့် MOA ရေးထိုးထားသော ကိုးရီးယားနိုင်ငံမှ BIKERS INC ၏ Company Profile တို့ကို တင်ပြနိုင်သည့်အတွက် ဖက်ရှင်လေးရာသီ ကုမ္ပဏီလီမိတက် မှ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားခြင်းအပေါ် ခွင့်ပြုပေးနိုင်ပါရန် ထောက်ခံတင်ပြအပ်ပါသည်။

ဥက္ကဋ္ဌ ( အစ )

( ဒေါက်တာမောင်မောင်လေး ၊ အထွေထွေအတွင်းရေးမှူး )

ကော်မရှင်၏ ၃၄ / ၂၀၁၀ အစည်းအဝေး

အကြောင်းအရာ။ ။ ဖက်ရှင်လေးရာသီကုမ္ပဏီလီမိတက် (Fashion Four Seasons Co., Ltd.) မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော ဖက်ရှင်လေးရာသီကုမ္ပဏီလီမိတက် (Fashion Four Seasons Co., Ltd.) သည် ဦးမိုးကျော်သူ နှင့် ဦးမိုးအောင်သူ အမည်ဖြင့် မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနမှ အသုံးပြုခွင့် ရရှိထားသော မြေကွက် အမှတ်(၃၂၁)၊ မြေတိုင်းရပ်ကွက်အမှတ်(၁၉/၁)၊ ကနောင်(၇) လမ်း၊ ရွှေပေါက်ကံ စက်မှုဇုန်၊ မြောက်ဥက္ကလာပ မြို့နယ်၊ ရန်ကုန်တိုင်းရှိ မြေ(၀.၅၇၃) ဧက (၂၄၉၇၅ စတုရန်းပေ) နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦများကို ငှားရမ်း၍ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့် ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်စုစုမော် (အဘ- ဦးမြင့်သိန်း) မှ အဆိုပြု တင်ပြလာပါသည်။

၂။ ယင်းလုပ်ငန်းနှင့် စပ်လျဉ်း၍

(က) အမှတ်(၁)စက်မှုဝန်ကြီးဌာန မှ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ ကုန်ကြမ်း လိုအပ်ချက် နှင့် ကုန်ချောထုတ်လုပ်မှု အချိုးအစား ညီညွတ်မှု ရှိပါကြောင်း ၊ CMP လက်ခနှုန်းများတင်ပြထားမှု ဆီလျော်မှု ရှိပါကြောင်း ၊ နှစ်စဉ်ထုတ်လုပ်မှုနှင့် စက်အင်အား၊ လူအင်အား အချိုးအစားညီမျှမှု ရှိပါကြောင်း နှင့် လုပ်ငန်း ဆောင်ရွက်ခွင့် တင်ပြလာခြင်းအပေါ် ကန့်ကွက်ရန် မရှိ ပါကြောင်း၊

(ခ) ဆောက်လုပ်ရေး ဝန်ကြီးဌာန မှ အဆိုပြုမြေကွက်အားစိစစ်ရာ ခြံစည်းရိုး ကာရံထားပြီး မြေပေါ်တွင် (၂၀' x ၄၈')နှစ်ထပ် ရုံးခန်းနှင့်တွဲလျှက် (၁၁၄' x ၄၈') စက်ရုံ အဆောက်အဦ(၁)လုံး၊ (၃၆' x ၉၆')တစ်ထပ်အဆောက်အဦ(၁)လုံး ဆောက်လုပ်ထားပြီး လုပ်ငန်း ဆောင်ရွက်နေခြင်း မရှိသေးပါကြောင်း၊ ယင်းမြေကွက်နှင့် အဆောက်အဦကို မြေဂရန် အမည်ပေါက် ဦးမိုးကျော်သူ နှင့် ဦးမိုးအောင်သူ ထံမှ ကုမ္ပဏီမှ ငှားရမ်း အသုံးပြုမည် ဖြစ်ပြီးယင်းငှားရမ်းမှုကို ကန့်ကွက်ရန် မရှိပါကြောင်းနှင့် ယင်းမြေနေရာတွင် လုပ်ငန်းဆောင်ရွက်ရန် သင့်လျော် သည်ဟု ယူဆပါကြောင်း၊

(ဂ) ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှု လုပ်ငန်းရှင်များ အသင်းချုပ် မှ အဆိုပြုကုမ္ပဏီသည် မြေကွက် အမှတ်(၃၂၁)၊ မြေတိုင်းရပ်ကွက် အမှတ် (၁၉/၁)၊ ကနောင်(၇) လမ်း၊ ရွှေပေါက်ကံ စက်မှုဇုန်တွင် လုပ်ငန်း ဆောင်ရွက်လျှက် ရှိကြောင်း၊ ရွှေပေါက်ကံ စက်မှုဇုန်စီမံခန့်ခွဲရေးကော်မတီ၏ (၁၉-၆-၂၀၁၀) ရက်စွဲပါ ထောက်ခံစာနှင့် MOA ရေးထိုးထားသော ကိုရီးယားနိုင်ငံမှ Bikers Inc ၏ Company Profile ကို တင်ပြနိုင်သည့် အတွက် လုပ်ငန်း ဆောင်ရွက်ခွင့် လျှောက်ထား လာခြင်း အပေါ် ထောက်ခံပါကြောင်း၊

(ဃ) ဆိုလ်းမြို့ရှိ ပြည်ထောင်စုမြန်မာနိုင်ငံတော် သံရုံး မှ အဆိုပြုကုမ္ပဏီနှင့် CMP စနစ်ဖြင့် လုပ်ငန်း ဆောင်ရွက် မည့် ကိုရီးယား သမ္မတ နိုင်ငံ ရှိ Bikers Inc နှင့် စပ်လျဉ်း၍ မေးမြန်းရာ စီးပွားရေး လုပ်ငန်း မှတ်ပုံတင်မှု အထောက်အထား၊ ကုမ္ပဏီနှင့် ပတ်သက်သော ရှင်းလင်း တင်ပြချက်၊ အနာဂတ် ဆောင်ရွက်မည့် လုပ်ငန်းများကို ရှင်းလင်း တင်ပြလာပြီး၊ ဘဏ်စာရင်းမှာ လုပ်ငန်း ဆောင်ရွက်ခွင့် ရရှိပြီးချိန်မှသာလျှင် ဘန်ကောက် တွင် ဖွင့်လှစ်သွားမည်ဖြစ်၍ တင်ပြနိုင်ခြင်း မရှိပါကြောင်း၊

၃။ လျှပ်စစ်ဓါတ်အား မရရှိသော အချိန်တွင် ကိုယ်ပိုင်မီးစက်ဖြင့် ထားရှိဆောင်ရွက်မည် ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၄။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ စုစုပေါင်း ကျပ်(၁၆၄.၄၄)သန်း ဖြစ်ပါသည်။ လုပ်ငန်းအတွက် လိုအပ်သော စက်ပစ္စည်းများ ကျပ်(၁၂၈.၆၅)သန်းဘိုး အနက် ကျပ်(၁၁၄.၇၅)သန်းဘိုးကို ပြည်တွင်းမှ ဝယ်ယူပြီး ဖြစ်ကြောင်း တင်ပြထားပါသည်။ စက်ပစ္စည်း စာရင်းအား ပူးတွဲ တင်ပြ ထားပါသည်။

| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | | ကျပ် ၁၆၄.၄၄ သန်း |
|---|---|---|
| (က) | ငွေပမာဏ | ၅.၀၀ |
| (ခ) | အဆောက်အဦပြင်ဆင်မှု | ၁၀.၀၀ |
| (ဂ) | စက်ပစ္စည်းကိရိယာများ | ၁၂၈.၆၅ |
| (ဃ) | ပရိဘောဂနှင့် လုပ်ငန်းသုံး ပစ္စည်းများ | ၂၀.၇၉ |

၅။ အဆိုပြုလုပ်ငန်းမှချုပ်လုပ်ပြီးအထည်များကို CMP စနစ်အရ ပြည်ပသို့ (၉၉) ရာခိုင်နှုန်း တင်ပို့၍ Reject(၁)ရာခိုင်နှုန်းကို ပြည်တွင်းတွင် ရောင်းချမည်ဖြစ်ပါသည်။ ပုံမှန်နှစ်တွင် ထုတ်လုပ်နိုင်မှုနှင့် CMP လက်ခနှုန်း၊ ပြည်တွင်းရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါ သည်။

| စဉ် | အမျိုးအမည် | ထုတ်လုပ်မှု (ဒါဇင်) | CMP လက်ခတစ် ဒါဇင် နှုန်း (US$) | တစ်ဒါဇင် ပြည်တွင်း ရောင်းဈေးနှုန်း (ကျပ်) |
|---|---|---|---|---|
| ၁။ | Jacket | ၁၃,၁၀၀ | ၁၃.၂ | ၃၅၀၀၀ |
| ၂။ | Pant | ၂၁,၈၃၀ | ၆.၂ | ၂၄၀၀၀ |
| ၃။ | Shirt | ၂၁,၈၃၀ | ၅.၈ | ၂၄၀၀၀ |
| ၄။ | Blouse | ၃၀,၅၆၀ | ၄.၂ | ၁၂၅၀၀ |

၆။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင် ဝင်ငွေကျပ်(၁၈.၉၉)သန်းနှင့် နိုင်ငံခြားငွေဖြင့် အမေရိကန်ဒေါ်လာ(၀.၅၆)သန်း ရရှိမည် ဖြစ်ပါသည်။ နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ CMP လက်ခရငွေအပေါ် (၁၀%) အခွန် ဖြတ်တောက်ရရှိငွေ အမေရိကန်ဒေါ်လာ (၅၅၇၆၀) နှင့် ကုန်သွယ်လုပ်ငန်းခွန် ကျပ်(၁. ၉၀)သန်း ရရှိမည် ဖြစ်ပါသည်။

၇။ လုပ်ငန်း ဆောင်ရွက်ရန် ပြည်တွင်းမှ လုပ်သား (၃၄၁)ဦး ခန့်ထားမည် ဖြစ်ပါသည်။ နိုင်ငံခြားသား ပညာရှင်(၃)ဦးအား အချိန်ပိုင်းခန့်ထားမည် ဖြစ်ပါသည်။ လုပ်ငန်းခွင် သာယာရေးအတွက် ထမင်းစားဆောင်(၁)ဆောင် ၊ အိပ်ဆောင်(၁)ဆောင် နှင့် ရေအိမ် (၂၀)လုံး စီစဉ်ပေးမည် ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၈။ ငွေကြေး အထောက်အထားအဖြစ် ကုမ္ပဏီ၏ ဒါရိုက်တာ ဖြစ်သူ ဒေါ်စုစုမော် အမည်ဖြင့် မြဝတီဘဏ်လီမိတက်ရှိ (၁၇-၅-၂၀၁၀) နေ့ရှိ ငွေလက်ကျန် ကျပ်(၂၀.၀၀) သန်း စာရင်းတင်ပြထားပါသည်။

၉။ ယင်း လုပ်ငန်းသည် မြန်မာနိုင်ငံသားများ သာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ လုပ်ငန်းအသစ်ဖြစ်ကြောင်း၊ မီးဘေးအန္တရာယ်အတွက် လိုအပ်သော အစီအမံများ၊ ကြိုတင်ကာကွယ်မှုများ ပြုလုပ်ထားမည်ဖြစ်ကြောင်း၊ ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/တိုင်း စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ထားရှိမည်ဖြစ်ကြောင်း၊ မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ်ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များကို လိုက်နာဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊ နိုင်ငံခြားငွေဖြင့် ရရှိသော အခကြေးငွေများကို မြန်မာ့နိုင်ငံခြားကုန်သွယ်မှုဘဏ်နှင့် မြန်မာ့ရင်းနှီးမြှုပ်နှံမှု နှင့် ကူးသန်းရောင်းဝယ်ရေး ဘဏ်ရှိ ကုမ္ပဏီ၏ ငွေစာရင်းသို့ မပျက်မကွက် ပေးသွင်းမည် ဖြစ်ကြောင်း၊ ကုန်ကြမ်းနှင့် ကုန်ချောများကို ရေကြောင်းခရီး/လေကြောင်းခရီးတို့ဖြင့် တင်ပို့မည်ဖြစ်ကြောင်း၊ ဝန်ခံ ကတိပြုထားပါသည်။

၁၀။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ကိုလည်းကောင်း၊ ပုဒ်မ ၁၃ အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို လည်းကောင်း ခံစားခွင့်ပြုရပါမည်။

၁၁။ သို့ဖြစ်ပါ၍ ဖက်ရှင်လေးရာသီ ကုမ္ပဏီလီမိတက် (Fashion Four Seasons Co., Ltd.) မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက် ခွင့်ပြုပါရန် တင်ပြလာခြင်း အပေါ် လမ်းညွှန်မှု ခံယူအပ်ပါသည်။

ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစု ရှင်များအမည် | ဒါရိုက်တာ/အစုရှင်များ၏ နေရပ်လိပ်စာ |
|---|---|---|---|
| ၁။ | ဖက်ရှင်လေးရာသီ ကုမ္ပဏီ လီမိတက် (Fashion Four Seasons Co., Ltd.) | ၁။ ဒေါ်စုစုမော် (အုပ်ချုပ်မှုဒါရိုက်တာ) | အမှတ်(၂၄)၊ ချယ်ရီလမ်း၊ (၁၄/၁) ရပ်ကွက်၊ တောင်ဥက္ကလာပမြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၂။ ဦးမျိုးဝင်း (ဒါရိုက်တာ) | အမှတ်(၁၁၇၈)၊ ရွှေဝါလမ်း၊ (၄၆) ရပ်ကွက်၊ ဒဂုံ မြို့သစ် မြောက်ပိုင်း၊ ရန်ကုန်မြို့။ |

## FASHION FOUR SEASONS COMPANY LIMITED

## MACHINERIES & EQUIPMENT (LOCAL PURCHASE)

Schedule - 3

| Sr No | Particulars | Qty | Unit Price in kyat | Value in kyat |
|---|---|---|---|---|
| | ဝယ်ယူပြီးစက်ပစ္စည်းစာရင်း | | | |
| 1 | Double Needle Sewing Machine | 30 | 435,000 | 13,050,000 |
| 2 | Single Needle Machine | 260 | 310,000 | 80,600,000 |
| 3 | Single Needle Lockstitch Machine | 2 | 350,000 | 700,000 |
| 4 | Double Needle lockstitch Machine | 5 | 580,000 | 2,900,000 |
| 5 | Overlock Machine | 10 | 500,000 | 5,000,000 |
| 6 | Interlock Machine | 12 | 750,000 | 9,000,000 |
| 7 | Knife Machine | 10 | 180,000 | 1,800,000 |
| 8 | Auto Bartack Machine | 5 | 340,000 | 1,700,000 |
| | | 334 | | 114,750,000 |
| | မဝယ်ယူရသေးသောစက်ပစ္စည်းစာရင်း | | | |
| 1 | Bartacking Machine | 2 | 800,000 | 1,600,000 |
| 2 | Buttom Machine | 3 | 400,000 | 1,200,000 |
| 3 | Snap Machine | 1 | 150,000 | 150,000 |
| 4 | Tacking Machine | 2 | 200,000 | 400,000 |
| 5 | Steam Iron | 10 | 35,000 | 350,000 |
| 6 | Straight Knife Cloth Cutter | 2 | 100,000 | 200,000 |
| 7 | Generator (150KVA) | 1 | 10,000,000 | 10,000,000 |
| | | 21 | | 13,900,000 |
| | **GRAND TOTAL** | 355 | | 128,650,000 |



ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ

**အမှတ် (၁) စက်မှုဝန်ကြီးဌာန**

**ဝန်ကြီးရုံး**

စာအမှတ်၊ ၂၉ /၁၈(၁)/၂၀၁၀ (၅၆၇၈)

ရက်စွဲ၊ ၂၀၁၀ ပြည့်နှစ် ဇူလိုင်လ ၂၁ ရက်

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၀ ပြည့်နှစ် ဇွန်လ ၁၀ ရက် နေ့စွဲပါစာအမှတ်၊ ရက-၆(က)/မ-၁၀၈၁/၂၀၁၀(၈၂၂၅)

၁။ ဖက်ရှင်လေးရာသီကုမ္ပဏီလီမိတက် (Fashion Four Seasons Co., Ltd) မှ ရန်ကုန်တိုင်း၊ မြောက်ဥက္ကလာပမြို့နယ်၊ ရွှေပေါက်ကံစက်မှုဇုန်၊ ကနောင်(၇)လမ်း၊ မြေကွက်အမှတ် (၃၂၁) တွင် CMP စနစ်ဖြင့်အထည်ချုပ်လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် တင်ပြလျှောက်ထားလာခြင်း အပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် အထက်ရည်ညွှန်းစာဖြင့် မေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာခြင်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) CMP ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှုအချိုးအစားညီညွတ်မှု ရှိပါသည်။

(ခ) CMP လက်ခနှုန်းများတင်ပြထားမှုသည် ဆီလျော်မှုရှိပါသည်။

(ဂ) နှစ်စဉ်ထုတ်လုပ်မှုနှင့် စက်အင်အား/လူအင်အား အချိုးအစားညီမျှမှု ရှိပါသည်။

၃။ သို့ဖြစ်ပါ၍ ဖက်ရှင်လေးရာသီကုမ္ပဏီလီမိတက် (Fashion Four Seasons Co., Ltd) မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် အဆိုပြုတင်ပြလာခြင်းအပေါ် ဤဝန်ကြီးဌာနမှ ကန့်ကွက်ရန်မရှိ(မရှိ)ပါကြောင်း ပြန်ကြားအပ်ပါသည်။

၂၁/၇/၂၀၁၀

ဝန်ကြီး ( )

မြင့်ဆွေ၊ ရုံးအဖွဲ့မှူး

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မိတ္တူကို-

အတွင်းရေးမှူး
CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ

ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့အထည်အလိပ်လုပ်ငန်း

D:\July (6)10\P 219



# ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
## ဆောက်လုပ်ရေးဝန်ကြီးဌာန
## ဝန်ကြီးရုံး
## နေပြည်တော်

စာအမှတ်၊ ၂၆ / ခွဲ - ၃ / ၂၀၁၀ (စီ ၄၉၆၈)
ရက် စွဲ၊ ၂၀၁၀ ခုနှစ် ဇူလိုင်လ ၅ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၀ ခုနှစ် ဇွန်လ (၁၀)ရက် နေ့စွဲပါ စာအမှတ်၊ ရက‌ - ၆(က)/မ-၁၀၈၁/၂၀၁၀ (၈၂၂၆)

၁။ ဖက်ရှင်လေးရာသီ ကုမ္ပဏီလီမိတက် ( Fashion Four Seasons Co., Ltd ) မှ မြောက်ဥက္ကလာပမြို့နယ်၊ ရွှေပေါက်ကံစက်မှုဇုန်၊ မြေတိုင်းရပ်ကွက် - ၁၉/၁ ၊ မြေကွက်အမှတ်၊ ၃၂၂ (၀.၅၇၇၃ဧကေ)နှင့် မြေပေါ်ရှိ အဆောက်အဦများကို ငှားရမ်း၍ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းအဆိုပြုချက် တင်ပြခြင်းနှင့် စပ်လျဉ်း၍အဆိုပြု မြေကွက်ကို စိစစ်ရာ ၀.၅၇၇၃ ဧက ( ၂၂၅ '/၁၀၈ ' x ၁၈၅ '/၁၅၀ ') အကျယ် မြေကွက်အား ခြံစည်းရိုး ကာရံထားပြီး မြေပေါ်တွင် ( ၂၀ ' x ၄၈ ' ) နှစ်ထပ်ရုံးခန်းနှင့် တွဲလျက် ( ၁၁၄ ' x ၄၈ ' ) စက်ရုံအဆောက်အဦ (၁)လုံး(၃၆ ' x ၉၆ ' )တစ်ထပ်အဆောက်အဦ(၁)လုံး ဆောက်လုပ်ထားပါသည်။ ဖက်ရှင်လေးရာသီကုမ္ပဏီလီမိတက် မှ လုပ်ငန်းဆောင်ရွက်နေခြင်း မရှိသေးပါ။ (အဆိုပြုမြေကွက်နှင့်ပတ်ဝန်းကျင်အခြေအနေပြ မြေပုံကြမ်း ပူးတွဲတင်ပြအပ်ပါသည်။ )

၂။ အဆိုပါမြေကွက်နှင့် အဆောက်အဦကို မြေဂရန်အမည်ပေါက် ဦးမိုးကျော်သူ + ဦးမိုးအောင်သူ ထံမှ ဖက်ရှင်လေးရာသီကုမ္ပဏီလီမိတက်က ငှားရမ်းအသုံးပြုမည်ဖြစ်ပြီး ၊ ယင်းငှားရမ်းမှုကို မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှ ကန့်ကွက်ရန်မရှိပါ ။

၃။ သို့ပါ၍ ဖက်ရှင်လေးရာသီကုမ္ပဏီလီမိတက်မှ လုပ်ငန်းဆောင်ရွက်မည့် မြေနေရာ၏ မြေပေါ်အခြေအနေအား သိရှိနိုင်ပါရန်နှင့် ပတ်ဝန်းကျင်အနေအထားအရ ယင်းမြေနေရာတွင် အထည်ချုပ်လုပ်ငန်း ဆောင်ရွက်ရန် သင့်လျော်သည်ဟု ယူဆပါကြောင်း ပြန်လည် တင်ပြအပ်ပါသည် ။

ဝန်ကြီး(ကိုယ်စား)
မြင့်သိန်း၊ ဒုတိယဝန်ကြီး

မိတ္တူကို

- ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန ။



ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
နိုင်ငံခြားရေးဝန်ကြီးဌာန
နေပြည်တော်

စာအမှတ်၊ ၃၂ ၇၇ ၂၇ ( ၃၁၆၅ )
ရက်စွဲ၊ ၂၀၁၀ ပြည့်နှစ်၊ အောက်တိုဘာလ ၄ ရက်

သို့

အတွင်းရေးမှူး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ ကိုရီးယားသမ္မတနိုင်ငံရှိ Bikers Inc ၏ ခိုင်မာမှုစုံစမ်းခြင်းကိစ္စ

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂-၇-၂၀၁၀ ရက်စွဲပါစာအမှတ်၊ ရက-၆(က)/ မ-၁၀၈၁/၂၀၁၀ (၉၅၅၈)

၁။ ကိုရီးယားသမ္မတနိုင်ငံရှိ Bikers Inc နှင့်ပတ်သက်၍ စုံစမ်းမေးမြန်းခဲ့ရာ စီးပွားရေးလုပ်ငန်းမှတ်ပုံတင်မှု အထောက်အထား၊ ကုမ္ပဏီနှင့်ပတ်သက်သော ရှင်းလင်းတင်ပြချက်၊ အနာဂတ်ဆောင်ရွက်မည့် လုပ်ငန်းများကို တင်ပြနိုင်သော်လည်း ဘဏ်စာရင်းမှာမူ လုပ်ငန်းဆောင်ရွက်ခွင့် ရရှိပြီးချိန်မှသာလျှင် ဘဏ်ကောက်တွင် ဖွင့်လှစ်သွားမည်ဖြစ်သဖြင့် တင်ပြနိုင်သေးခြင်း မရှိကြောင်းကို သိရှိရပါကြောင်း ပေးပို့တင်ပြလာသည့် မြန်မာသံရုံး၊ ဆိုးလ်မြို့၏ ၂၄-၉-၂၀၁၀ ရက်စွဲပါ (ဖက်စ်) စာအမှတ်၊ ၀၁၇ - ၅၀၁ / ၃၃ - ၀၃ ကို ဤစာနှင့်အတူ ပူးတွဲ ပေးပို့အပ်ပါသည်။

၂။ သက်ဆိုင်ရာစာရွက်စာတမ်းများကို လက်ခံရရှိသည့်အခါ ဆက်လက်ပေးပို့မည်ဖြစ်ကြောင်း ဖော်ပြအပ်ပါသည်။

ဒုတိယဝန်ကြီး(ကိုယ်စား)
(သန်းစိန်၊ ဒုတိယညွှန်ကြားရေးမှူး)